၅။ မြေပိုင်ရှင် ဒေါ်မြညွှန့်၊ ဒေါ်မြင့်မြင့်မော် (ဒေါ်မြညွှန့်၏သမီး) ထံမှ Sen Hui Yuan International Trading Co.,Ltd.က (၂၀)နှစ် ငှားရမ်းမည်ဖြစ်ပြီး မြေငှားရမ်းခမှာ အောက်ပါအတိုင်း [illegible] မြေငှားစာချုပ်တင်ပြ ထားပါသည်။

(က) ပထမ (၅) နှစ်အတွက် - တစ်နှစ်ငှားရမ်းခ ကျပ်သန်း ၆၀.၀၀၀

(ခ) ဒုတိယ (၅) နှစ်အတွက် - တစ်နှစ်ငှားရမ်းခ ကျပ်သန်း ၆၂.၄၀၀

(ဂ) တတိယ (၅) နှစ်အတွက် - တစ်နှစ်ငှားရမ်းခ ကျပ်သန်း ၆၄.၈၉၆

(ဃ) စတုတ္ထ (၅) နှစ်အတွက် - တစ်နှစ်ငှားရမ်းခ ကျပ်သန်း ၆၇.၄၉၂

၆။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ **US$ ၂.၃၂ သန်း** ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | - | ၀.၁၄၉ (၀၀၀) |
| (ခ) | စက်ပစ္စည်းများ | - | ၁.၀၂၄ (၀၀၀) |
| (ဂ) | ရုံးပရိဘောဂနှင့်အသုံးအဆောင်ပစ္စည်း | - | ၀.၁၁၂ (၀၀၀) |
| (ဃ) | အဆောက်အဦကုန်ကျစရိတ် | - | ၁.၀၃၅ (၀၀၀) |
| | **စုစုပေါင်း** | - | **၂.၃၂၀ (၀၀၀)** |

၇။ လုပ်ငန်းအတွက် လိုအပ်သော ယာဉ်၊ ယန္တရားနှင့် စက်ပစ္စည်းတန်ဖိုး USD ၁၀၂၄၅၀၀ ကို ပြည်ပမှတင်သွင်းမည်ဖြစ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၅၀)နှစ်ဖြစ်ပြီး အရင်းကြေကာလမှာ(၆)နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ (၁ )နှစ် ဖြစ်ပါသည်။

၉။ စီးပွားရေးဆိုင်ရာတွက်ချက်မှုများအရ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

**(ဆဌမနှစ်)**

| | | | |
|---|---|---|---|
| (က) | ကုမ္ပဏီ၏ဝင်ငွေ | - | USD 5.000 (000) |
| (ခ) | ကုမ္ပဏီ၏ အသုံးစရိတ် | - | USD 4.333 (000) |
| (ဂ) | ကုမ္ပဏီ၏ အသားတင်အမြတ် | - | USD 0.666 (000) |
| (ဃ) | နိုင်ငံတော်မှရရှိမည့် ဝင်ငွေခွန် | - | USD 0.166 (000) |
| (င) | နိုင်ငံတော်မှရရှိမည့် ကုန်သွယ်လုပ်ငန်းခွန် | - | - |
| (စ) | လူမှုရေးဆိုင်ရာတာဝန်ယူမှု (CSR) | - | နှစ်စဉ်အမြတ်အပေါ် ၂% (တစ်နှစ် USD 10000 ခန့်) |

၁၀။ လုပ်ငန်းကြောင့် ဒေသခံ ပြည်တွင်းဝန်ထမ်း (၁၆၇)ဦး၊ ပြည်ပဝန်ထမ်း (၂ )ဦး၊ စုစုပေါင်း (၁၆၉)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းများ၏ အမြင့်ဆုံးလစာသတ်မှတ်ချက် (၅၀၀၀၀၀ိ/)ဖြစ်ပြီး အနိမ့်ဆုံးလစာသတ်မှတ်ချက် (၁၅၀၀၀၀ိ)ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း

ဝန်ထမ်းများအတွက် အမြင့်ဆုံးလစာ USD ၃၀၀၀ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ USD ၂၀၀၀ ဖြစ်ပါသည်။ အစိုးရမှ ပေးရမည့်အညီ ပြည်တွင်း/ပြည်ပဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ ကာလအလိုက် တောက်ခံ၍ ပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်နှင့် ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေသတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည်ဖြစ်ကြောင်း ကတိပန်ခံချက် ဖော်ပြပါရှိပါသည်။

၁၁။ လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အားလိုအပ်ချက်မှာ လစဉ် ယူနစ် (၅)သိန်း ဖြစ်ပြီး လျှပ်စစ်စွမ်းအင်ဝန်ကြီးဌာနမှ (၁၀၀၀)KVA Transformer (၁) လုံးအား တင်ပြလျှောက်ထား ဆောင်ရွက်သွားမည်ဖြစ်ပြီး အစိုးရ လျှပ်စစ်မီးမရမီ 500KVA GENERATOR (၂)လုံး တပ်ဆင် အသုံးပြု မည်ဖြစ်ပါသည်။

၁၂။ နှစ်စဉ်ထုတ်လုပ်မှုပမာဏမှာ ရာဘာသစ် (၁၄၄၀၀CBM) ဖြစ်ပါသည်။ လုပ်ငန်းအတွက် နှစ်စဉ်စက်သုံးဆီလိုအပ်ချက်မှာ ဒီဇယ်(၆၀၀၀၀)ဂါလန်ဖြစ်ပြီး လုပ်ငန်းသုံးနှင့် မီးဘေးကာကွယ်ရေး အတွက် အဝီစိတွင်း(၁)တွင်း တူးဖော်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံ အဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံ ချက်ဖော်ပြပါရှိပါသည်။

၁၄။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြား ထားပါသည် -

(က) **မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း**မှ အဆိုပါလုပ်ငန်းနှင့်ပတ်သက် ၍ စက်ရုံအနေဖြင့် လျှပ်စစ်ဓာတ်အားရရှိလိုပါက ၃၃ကေဗီ ဓာတ်အားလိုင်း ၁၀၀ပေခန့်၊ ၃၃/၀.၄ ကေဗီ၊ ၁၀၀၀ ကေဗီအေ ထရန်စဖော်မာတို့အား Protection အပြည့်အစုံဖြင့် ကိုယ့်အားကိုယ်ကိုး တည်ဆောက်ရန်နှင့် တည်ဆောက်ခွင့် ရရှိ ရေးကို ဌာနမှ သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများအတိုင်း သက်ဆိုင်ရာ မုဒုံမြို့နယ် လျှပ်စစ်အင်ဂျင်နီယာရုံး မှတဆင့်တင်ပြလျှောက်ထားရမည် ဖြစ် ကြောင်းသဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-က)**

(ခ) **မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန** က အောက်ပါအချက် များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည် - **(နောက်ဆက်တွဲ-ခ)**

(၁) စက်ရုံအဆောက်အဦနှင့်တည်နေရာသည် ပတ်ဝန်းကျင်ဘေးအန္တရာယ်ရှိနိုင် သည့်အခြေအနေ မဖြစ်ရန်၊

(၂) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သက်ဆိုင်ရာဌာနစိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊
(၃) ပတ်ဝန်းကျင်အနှောင့်အယှက်မဖြစ်ရေးနှင့်ညစ်ညမ်းမှုမရှိရေးဆောင်ရွက်ရန်၊
(၄) လေဝင်လေထွက်ကောင်းရန် စက်ရုံ၏ အမိုးများတွင် အမှုန်စုပ်ပန်ကာများ လုံလုံလောက်လောက်တပ်ဆင် ဆောင်ရွက်သွားရန်၊
(၅) စက်ရုံတွင်တာဝန်ထမ်းဆောင်နေသော အလုပ်သမားများ၏ကျန်းမာရေး မထိခိုက်ရေး နှင့်အန္တရာယ်ကျရောက်မှုမရှိရေးဆောင်ရွက်ရန်၊
(၆) အသုံးပြုသောကုန်ကြမ်းများသည် ပတ်ဝန်းကျင်ဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်ခြင်းမရှိရန်၊
(၇) တည်ဆဲဥပဒေများအား လိုက်နာဆောင်ရွက်ရန်၊

(ဂ) **မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** က အောက်ပါအချက် များအား လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-ဂ)**
(၁) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၃၂၊ ၃၃၊ ၃၄ နှင့်အညီ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ရေးဆွဲဆောင်ရွက်ရန်နှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူ သွားရန်၊
(၂) ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ရန်၊
(၃) မီးဘေးအန္တရာယ်ကာကွယ်ရန်အတွက် မီးဘေးလုံခြုံရေးစီမံချက် ရေးဆွဲရန်၊ မီးသတ်ရေကန်/သဲ တို့ကိုစဉ်ဆက်မပြတ် ဖြည့်တင်းထားရှိရန်နှင့် အရေးပေါ် အချက်ပေးစနစ်များ တပ်ဆင်ထားရန်၊
(၄) လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများ သက်သာချောင်ချိရေး အစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ရေးဆွဲဆောင်ရွက်ရန်၊
(၅) အစားထိုးရာဘာစိုက်ခင်းများ ထူထောင်သွားရန်၊
(၆) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဌာနမှ ပြဌာန်းသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊
(၇) လုပ်ငန်းအနေဖြင့် စီးပွားဖြစ်ထုတ်လုပ်နေသည့် စီမံကိန်းကာလအတွင်း ထုတ်လုပ်မှုနည်းစဉ်ပြောင်းလဲခြင်း၊ လုပ်ငန်းပမာဏချဲ့ထွင်ခြင်း၊ တိုးမြှင့်ထုတ်လုပ်ခြင်းများ ဆောင်ရွက်မည်ဆိုပါက ပတ်ဝန်းကျင်ထိန်းသိမ်းရေး

ဦးစီးဌာန၏ သဘောထားမှတ်ချက်ထပ်မံတောင်းခံ၍ ပတ်ဝန်းကျင်ဆိုင်ရာ ဆန်းစစ်ချက်ဆောင်ရွက်သွားရန်၊

(ဃ) **မွန်ပြည်နယ်သစ်တောဦးစီးဌာန** က အဆိုပါကုမ္ပဏီအနေဖြင့် သစ်အခြေခံအသုံးပြု သည့်စက်ရုံတည်ထောင်ရန်အတွက် လျှောက်ထားမှုမရှိသေးပါကြောင်း ပြန်ကြား ထားပါသည်။ **(နောက်ဆက်တွဲ-ဃ)**

(အတည်ပြုမိန့်ရရှိပါက သစ်တောဦးစီးဌာန၏ သစ်စက် (Saw Mill) လိုင်စင် ရယူသွားမည် ဖြစ်ကြောင်း Sen Hui Yuan International Trading Co., Ltd. က ကတိဝန်ခံချက် ဖော်ပြထားပါသည်။)

(င) **မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး** က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး (၁၁.၄.၂၀၁၉) ရက် နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၃/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၄)အရ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြား ထားပါသည်။ **(နောက်ဆက်တွဲ- င)**

၁၅။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) Sen Hui Yuan International Trading Co., Ltd. ၏ ရာနှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့ တင်ပို့မည့် လုပ်ငန်း သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ် /ကန့်သတ် ထား သည့်လုပ်ငန်းများတွင်မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/အဆောက်အဦအားအသုံးပြု ထားမှုမရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့် ပြည်သူလူထုအား ကြီးမားသော သက်ရောက်မှု ဖြစ်ပေါ်နိုင်သည့်လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ USD ၅ သန်း အောက်တွင်ရှိ ခြင်းများကြောင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့် ထုတ်ပေးနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ် ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ် (၁)(ခ)၊ အမှတ်စဉ် (၃) အရဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။ လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်မည့် မွန်ပြည်နယ်၊ မုဒုံမြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇ အရ ဇုန် (၂)တွင်ပါဝင်ပါသည်။သို့ဖြစ်ရာ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က)(ဂ) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ်ပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (က) အရ လုပ်ငန်းတည်ဆောက်မှုကာလ အတွင်း လုပ်ငန်းလိုအပ်ချက်အရ တင်သွင်းသော စက်ပစ္စည်းများ၊ တည်ဆောက်ရေး ပစ္စည်းများနှင့်လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင်လည်းကောင်း၊ ပြည်ပသို့ ရာနှုန်းပြည့်တင်ပို့သည့်လုပ်ငန်းဖြစ်၍ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (ခ) အရ ကုန်ကြမ်းတင်သွင်းရာတွင်လည်းကောင်း အကောက်ခွန်ကင်းလွတ်ခွင့်/သက် သာခွင့်များ ရရှိခံစားနိုင်သည့်လုပ်ငန်းဖြစ်ပါသည်။

(စ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍများတွင် ပါဝင် ပြီး ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများစွာဖန်တီးပေးနိုင်ခြင်းနှင့် လုပ်ငန်းဆိုင်ရာပညာရပ်များရရှိနိုင်ခြင်း၊ ရာနှုန်းပြည့်ပြည်ပပို့ကုန်လုပ်ငန်းဖြစ်၍ နှစ်စဉ်နိုင်ငံခြားဝင်ငွေရရှိနိုင်မည့်လုပ်ငန်းဖြစ်ပါသည်။

(ဆ) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသ ဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါ ကြောင်း တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sen Hui Yuan International Trading Co., Ltd. မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ တာပသွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၂၂+ ၂၃/၁+ ၂၁/၂+ ၃၂/၃)၊ ကွင်းအမှတ်(၈၁၅)၊ သာယာကုန်းကွင်းရှိမြေ (၉.၀၅)ဧကတွင် တွင် ရာဘာသစ်ခွဲသား ထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့မည့်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီး မြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြ လာခြင်းအား **အတည်ပြုမိန့်** ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြင့်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာရုံး
မွန်ပြည်နယ်-မော်လမြိုင်မြို့။

စာအမှတ်၊ / ၄အ - ၂လ(မပ) / ၂၀၁၉။
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ( )ရက်။

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ မွန်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ (၁၃.၃.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရကာ/၁/နခ၁/၂၀၁၉ (၀၀၆)

၁။ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ် ၊ တာပသွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-၂၂+၂၃/၁+၂၁/၁+၃၂/၃ ၊ ကွင်းအမှတ်၊ ၈၁၅၊ သာယာကုန်း ကွင်းမြေဧရိယာ (၉.၀၅) ဧကတွင် ရာနှုန်းပြည့် နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှု ဖြင့် ရာဘာသစ်ခွဲသား ထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့ တင်ပို့နိုင်ရန်အတွက် Sen Hui Yuan International Trading Co.,Ltd ၏ ရာဘာသစ်ခွဲစက်ရုံ တည်ဆောက် ထုတ်လုပ်ခွင့် တင်ပြလာခြင်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဌာန လုပ်ထုံး လုပ်နည်း သဘောမှတ်ချက်အား (၂၅.၃.၂၀၁၉) ရက်နေ့ အရောက် ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် ညှိနှိုင်းထားပါသည်။

၂။ ဖော်ပြပါ ရာဘာသစ်ခွဲသားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံသူ၏ လုပ်ငန်းအဆိုပြုချက်တွင် "လုပ်ငန်းအတွက် ဓာတ်အားလိုအပ်ချက် တလလျှင် ယူနစ်(၅)သိန်းကို လျှပ်စစ်စွမ်းအင်ဝန်ကြီးဌာနမှ 1000 kVA Transformer ၁ လုံးအား တင်ပြလျှောက်ထားဆောင်ရွက်သွားမည်ဖြစ်ပြီး မီးမရရှိသည့်ချိန်တွင် အရံမီးစက်ဖြင့် Generator 500 kVA ၂လုံးကို အသုံးပြု ဆောင်ရွက်သွားမည်ဖြစ်ကြောင်း" ဖော်ပြပါရှိပါသည်။

၃။ ထိုရာဘာသစ်ခွဲစက်ရုံမှ ကိုယ့်အားကိုယ်ကိုး ကြည်အောက်ဓာတ်အားရယူလိုသော ၁၀၀၀ ကေဗွီအေ ထရန်စဖော်မာသို့ ဓာတ်အားပေးမည်ဆိုပါက ၎င်းနှင့် ၁၀၀ပေခန့် အကွာတွင်ရှိသော ၃၃ကေဗွီ မော်လမြိုင်-မုဒုံ ဓာတ်အားလိုင်းမှ ဓာတ်အားရယူရမည် ဖြစ်ပါသည်။ အဆိုပါနေရာတွင် ၁၁ကေဗွီ ဓာတ်အားလိုင်းလည်း ရှိပါသည်။ ထိုဓာတ်အားလိုင်းသည် လက်ရှိတွင် အများဆုံးဝန်အား ၃.၂ မဂ္ဂါဝပ် ခန့်ရှိနေပြီးဖြစ်၍ စက်ရုံမှ လိုအပ်လာမည့် ၀.၈ မဂ္ဂါဝပ်ခန့်အား ပေးရန်မရတော့သလို လက်ရှိအများဆုံးဝန်အား ၃.၂ မဂ္ဂါဝပ်ခန့်အား ဝန်အားလျှော့ချရေးကိုလည်း စတင်ဆောင်ရွက်နေပြီးဖြစ်ပါသည်။

၄။ သို့ပါ၍ Sen Hui Yuan International Trading Co.,Ltd ၏ ရာဘာသစ်ခွဲစက်ရုံအနေဖြင့် လျှပ်စစ်ဓာတ်အားရရှိလိုပါက ၃၃ကေဗွီ ဓာတ်အားလိုင်း ၁၀၀ ပေခန့်၊ ၃၃/၀.၄ ကေဗွီ၊ ၁၀၀၀ ကေဗွီအေ ထရန်စဖော်မာတို့အား Protection အပြည့်အစုံဖြင့် ကိုယ့်အားကိုယ်ကိုး တည်ဆောက်ရမည် ဖြစ်ပါသည်။ တည်ဆောက်ခွင့် ရရှိရေးကိုလည်း ဌာနမှ သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများအတိုင်း သက်ဆိုင်ရာ မုဒုံမြို့နယ်လျှပ်စစ်အင်ဂျင်နီယာ ရုံးမှတဆင့် တင်ပြလျှောက်ထားရမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(ဝင်းဘို)
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ

ဥက္ကဋ္ဌ
ရင်းနှီးမြှုပ်နှံမှု ကော်မတီ
မွန်ပြည်နယ်၊မော်လမြိုင်မြို့။

မိတ္တူကို/-
(၁) Sen Hui Yuan International Trading Co.,Ltd
(၂) ရုံးလက်ခံ

နောက်ဆက်တွဲ (ခ)

ပြည် နယ် ဦး စီး ဌာ န မှူး ရုံး
မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်
စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့
စာအမှတ်၊၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၁၉(၁၂၅၉)
ရက်စွဲ ၊၂၀၁၉ ခု နှစ်၊ မတ် လ ရက်

သို့

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁၃.၃.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက/ ၁/ နငခ /၂၀၁၉ (၀၀၆)

၁။ Sen Hui Yuan International Trading Co.,Ltd သည်မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ တာပသွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် - ၂၂+ ၂၃/၁+ ၂၁/၁+ ၃၂/၃၊ ကွင်းအမှတ် - ၈၁၅ ၊ သာယာကုန်းကွင်း၊ မြေဧရိယာ(၉.၀၅)ဧကတွင် ရာနှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသား စက်ရုံတည်ဆောက် ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှဆောင်ရွက်ရမည့်လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များဆောင်ရွက်ရန်လိုပါသည်-

(က) စက်ရုံ၏ အဆောက်အဦနှင့်တည်နေရာသည် ပတ်ဝန်းကျင် ဘေးအန္တရာယ်ရှိနိုင်သည့်အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါအစီအမံအတိုင်း ဇာတ်တိုက်လေ့ကျင့်သွားရန် လိုအပ်ပြီး မီးဘေးကာကွယ်ရေး ပစ္စည်းကိရိယာများ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိဆောင်ရွက်သွား

ရန်နှင့်သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင် အနှောင့်အယှက်မဖြစ်စေရေး နှင့် ညစ်ညမ်းမှုမရှိစေရေး အတွက်စက်ရုံလည်ပတ်စဉ်တွင် ထွက်ရှိလာသော အမှုန်အမွှား၊ စွန့်ပစ်ရေ၊ ဆေားထွက်ရာဘာသစ်တိုအပိုင်းအစများ၊ လွှစာမှုန့်များကြောင့်ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် စက်ရုံလုပ်သားများ၏ ကျန်းမာရေးမထိခိုက်စေရန် အတွက် စနစ်တကျစွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) စက်ရုံအတွင်း လေဝင်လေထွက်ကောင်းရန်နှင့်စက်ရုံ၏ အမိုးများတွင်အမှုန် စုပ်ပန်ကာများ လုံလုံလောက်လောက်တပ်ဆင် ဆောင်ရွက်သွားရန်လိုအပ် ပါသည်။

(င) စက်ရုံ၏ထုတ်လုပ်မှုနည်းစဉ်များသည်စက်ရုံလုပ်သားများ နှင့်ပတ်ဝန်းကျင် တွင်နေထိုင်လျှက်ရှိသော ပြည်သူများ၏ ကျန်းမာရေးဘေးအန္တရာယ် ထိခိုက်မှု မရှိစေရေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(စ) အသုံးပြုသော ကုန်ကြမ်းများသည် ပတ်ဝန်းကျင်ဘေးအန္တရာယ် ဖြစ်ပေါ် စေနိုင်ခြင်းမရှိရန် လိုအပ်ပါသည်။

(ဆ) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Sen Hui Yuan International Trading Co.,Ltd မှ ရာဘာ သစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့ တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက် ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်း နှင့် ပတ်သက်၍ အထက်ပါ အချက်များအားလိုက်နာဆောင်ရွက်မည်ဆိုပါက မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေး ရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

တင်ညို
ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို-

- ရုံးလက်ခံ/မျှောစာတွဲ

ညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ်၊ မော်လမြိုင်မြို့
စာအမှတ်၊ ၄၂၁ / ကကရ / ၂၀၁၉
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ၊ ဧပြီလ ၁ ရက်

သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်

အကြောင်းအရာ။ **ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ထုတ်လုပ်ရန်အတွက် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၁၃.၃.၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/၁/နငခ/၂၀၁၉(၀၀၆)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ **Sen Hui Yuan International Trading Co.,Ltd** မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ တာပသွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-၂၂+၂၃/၁+၂၁/၁+၃၂/၃၊ ကွင်းအမှတ်-၈၁၅၊ သာယာကုန်းကွင်း၊ မြေဧရိယာ (၉.၀၅)ဧကပေါ်တွင် ရာနှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့လျှောက်ထားတင်ပြခြင်းအပေါ် ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ အဆိုပါ ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ထုတ်လုပ်ရောင်းချခြင်းအတွက် ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက်ပေးပါရန် မွန်ပြည်နယ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်းပြီး **Sen Hui Yuan International Trading Co.,Ltd** မှ အဆိုပြုတင်ပြလာသော ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ထုတ်လုပ်ခြင်းလုပ်ငန်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

(က) **Sen Hui Yuan International Trading Co.,Ltd** သည် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသောလုပ်ငန်းဖြစ်ပြီး ရာဘာသစ်ခွဲသားထုတ်လုပ်၍ ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ်ကြောင်း၊

(ခ) လျှပ်စစ်ဓာတ်အားလိုအပ်ချက် တစ်လလျှင်ယူနစ်(၅)သိန်းအတွက် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ (1000)KVA Transformer (၁)လုံး တင်ပြလျှောက်ထား ဆောင်ရွက်သွားမည်ဖြစ်ပြီး မီးမရရှိသည့်အချိန်တွင် အရံမီးစက်ဖြင့် (500)KVA Generator (၂)လုံး အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက်လိုအပ်သောရေကို ယခုတည်ဆောက်ဆဲကာလတွင် အဝီစိ(၁) တွင်းတူးဖော်သုံးစွဲမည်ဖြစ်ပြီး စက်ရုံအတွက်လိုအပ်ပါက အဝီစိ(၁)တွင်း ထပ်မံတူးဖော်

သုံးစွဲမည်ဖြစ်ကြောင်း၊ လိုအပ်သောစက်သုံးဆီပမာဏမှာ တစ်လလျှင်ဂါလံ(၅၀၀၀)ခန့် ရှိကြောင်း၊

(ဃ) ရာဘာသစ်ခွဲသားထုတ်လုပ်မှု အဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ကြောင်း-

(၁) ရာဘာကုန်ကြမ်းသစ်လုံးအား သစ်ခွဲစက်ဖြင့်ခွဲစိတ်ခြင်း၊

(၂) ဖိအားဖြင့် ဆေးစိမ်ခြင်း၊

(၃) အခြောက်ခံခြင်း၊

(၄) အရည်အသွေးစစ်ဆေးခြင်း၊

(၅) ကုန်ပစ္စည်းထုတ်ပိုးခြင်း၊

(င) အဆိုပြုလုပ်ငန်းတွင် 144.4M×70Mအကျယ် ရှိ Roughing workshop အဆောက်အဦ (၁)လုံး၊ 144.4M×70Mအကျယ်ရှိ finishing workshop အဆောက်အဦ(၁)လုံး၊ 8.56M× 4.88M အကျယ်ရှိ Power Distribution (၁)လုံး၊ 38M×25M အကျယ်ရှိ Boilar Room (၁)လုံး၊ 40.01M×9.33M အကျယ်ရှိ Office Room (၁)လုံး၊ 74.52M×7.01Mအကျယ်ရှိ Canteen နှင့် public Toilet (၁)လုံး၊ 74.52M×16.72M အကျယ်ရှိ Staff Domtory အဆောက်အဦ(၁)လုံး ဆောက်လုပ်မည်ဖြစ်ကြောင်း၊

(စ) ရာဘာသစ်ခွဲသားစက်ရုံသည် တစ်လလျှင် ကုန်ကြမ်း(၁၄၀၀၀)ကုဗမီတာအထိ အသုံးပြုမည်ဖြစ်ကြောင်း၊

(ဆ) ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိပါက မြန်မာနိုင်ငံသားဝန်ထမ်း (၁၆၇)ဦးခန့်နှင့် နိုင်ငံခြားသား(၂)ဦးခန့်တို့ကို လုပ်ငန်းစတင်သော ပထမနှစ်တွင် ခန့်အပ်သွားမည်ဖြစ်ကြောင်း၊

(ဇ) အဆိုပြုလုပ်ငန်းမှရရှိလာမည့် နှစ်စဉ်အမြတ်ငွေမှ (၂%)အား CSR ရန်ပုံငွေအဖြစ် သုံးစွဲသွားမည်ဖြစ်ကြောင်း၊

(ဈ) မီးဘေးအန္တရာယ်ကာကွယ်ရန်အတွက်5M×2Mအကျယ်ရှိ မီးသတ်ကန်(၂)ကန်၊ (၂၀၀၀) လီတာဆန့် ရေစင်(၈)ကန်နှင့် မီးသတ်ဆေးဘူး(၃၀)ဘူး ဆောင်ရွက်ထားရှိပြီးဖြစ်ကြောင်း တင်ပြချက်များအရသိရှိရပါသည်။

၃။ ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်လုပ်ဆောင်ခြင်းနှင့် ပတ်သတ်၍ စိစစ်တွေ့ရှိချက်များ အပေါ် အောက်ပါအတိုင်း သုံးသပ်ရပါသည်-

(က) တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ချိန်နှင့် စက်ရုံလည်ပတ်ချိန်တွင် ထွက်ရှိလာမည့် အမှုန်အမွှား၊ စွန့်ပစ်ရေ/ပစ္စည်း၊ ဓါတုစွန့်ပစ်ပစ္စည်း၊ ဘေးထွက်ရာဘာသစ်တို အပိုင်းအစများ၊ လွှစာမှုန့်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် စက်ရုံလုပ်သားများ၏ကျန်းမာရေး မထိခိုက်စေရန်အတွက် စနစ်တကျစွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်သွားရန် လိုအပ်ကြောင်း၊

(ခ) လုပ်ငန်းဆောင်ရွက်ရာတွင် အလုပ်သမားများအနေဖြင့် နှာခေါင်းစည်းများ၊ လက်အိတ်များ တပ်ဆင်/ဝတ်ဆင်ထားခြင်းမရှိပါက အမှုန်အမွှားများ၊ ဓါတုပစ္စည်းများကြောင့် မလိုလားအပ်သော ကျန်းမာရေးဆိုင်ရာပြဿနာများ ဖြစ်ပေါ်နိုင်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာ၌ စက်ယန္တရားကြီးများအသုံးပြု၍ သစ်လုံးသယ်ယူခြင်း၊ ခွဲစိတ်ခြင်းလုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ထွက်ရှိလာမည့်အခိုးအငွေ့များ၊ ဖုန်မှုန့်များနှင့်ဆူညံသံများကြောင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် သစ်အပိုင်းအစနှင့်ဓာတုစွန့်ပစ်ပစ္စည်းများကြောင့်လည်းကောင်း ပတ်ဝန်းကျင်လေထု၊ မြေထုကိုထိခိုက်မှုများအတွက် (Mitigation Process) လျှော့နည်းသက်သာစေရေး အစီအစဉ်အနေဖြင့်ဆောင်ရွက်နိုင်ရေး ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် စက်ကိရိယာများနှင့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန် လိုအပ်ကြောင်း၊

(ဃ) ဆေးရည်စိမ်ရာတွင်အသုံးပြုသော ဓာတုဗေဒပစ္စည်း(Borax)ကို စနစ်တကျကိုင်တွယ်အသုံးပြုခြင်းမရှိပါက ကိုင်တွယ်အသုံးပြုသူ၏ မျက်စိထဲသို့ Chemical အမှုန်များဝင်ရောက်၍ ထိခိုက်မှုရှိနိုင်သဖြင့် အကာအကွယ်များဖြင့် ဆောင်ရွက်သွားရန် လိုအပ်ကြောင်း၊

(င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များ ရေးဆွဲဆောင်ရွက်သွားရန်၊ အဆိုပါ အစီအမံအတိုင်း ဇာတ်တိုက်လေ့ကျင့်သွားရန်နှင့် မီးဘေးကာကွယ်ရေး ပစ္စည်းကိရိယာများကို စနစ်တကျထားရှိ ဆောင်ရွက်သွားရန် လိုအပ်ကြောင်း၊

(စ) စက်ရုံဝင်းအတွင်း၌ ကုန်ကြမ်းများ၊ လွှစာမှုန့်များ၊ ထင်းများနှင့် အမှိုက်များစုပုံထားရှိမှုများသည် ပွင့်လင်းရာသီရောက်ရှိလာပါက မီးဘေးအန္တရာယ် စိုးရိမ်ရကြောင်း၊

(ဆ) စက်ရုံအတွင်း လေဝင်/လေထွက်ကောင်းမွန်စေရေး ဆောင်ရွက်ထားရန်လိုအပ်ပြီး စက်ရုံ၏အမိုးများတွင်လည်း အမှုန်စုပ်ပန်ကာများ လုံလုံလောက်လောက် တပ်ဆင်ဆောင်ရွက်သွားရန် လိုအပ်ကြောင်း၊

(ဇ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ(က)၊ အမှတ်စဉ်(၆၂)အရသစ်စက်နှင့်သစ်အချောထည်ပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တစ်နှစ်လျှင်ကုန်ကြမ်းသစ် ကုဗမီတာ၃,၀၀၀နှင့်အထက်၊ ကုဗမီတာ ၅၀,၀၀၀အောက်၊ သစ်အချောထည်ပစ္စည်းထုတ်လုပ်ခြင်းအတွက် တစ်နှစ်လျှင်ကုဗမီတာ၁,၀၀၀နှင့်အထက်၊ ကုဗမီတာ ၁၅,၀၀၀အောက် ထုတ်လုပ်မည်ဆိုပါက ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်းပြုလုပ်ရန်ဟုပြဋ္ဌာန်းထားရှိပြီးစက်ရုံအနေဖြင့်တစ်လလျှင်(၁၂၀၀)ကုဗမီတာ ထုတ်လုပ်မည်ဖြစ်သဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE) ပြုလုပ်သွားရန် လိုအပ်ကြောင်း။

၄။ သို့ဖြစ်ပါ၍ **Sen Hui Yuan International Trading Co.,Ltd** မှ ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားပါသည်-

(က) ရာဘာသစ်ခွဲသားလုပ်ငန်းအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ အောက်ပါအချက်များအတိုင်း ရေးဆွဲသွားရန်-

(ကက) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၃၂) အရအစီရင်ခံစာပြုစုခြင်းကို မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းက ဆောင်ရွက်မည်ဖြစ်ကြောင်း ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းမစတင်မီ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရေးသားတင်ပြရန်၊ အစီရင်ခံစာ ပြုစုခြင်းကို မိမိကိုယ်တိုင်သော်လည်းကောင်း၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းအပိုဒ်(၁၈)နှင့်အညီလုပ်ငန်းလိုင်စင် ရယူထားသော ပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းကို ခန့်အပ်၍ သော်လည်း ကောင်း ဆောင်ရွက်ရန်၊

(ခခ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကို အဖွဲ့အစည်း (သို့မဟုတ်) တတိယပုဂ္ဂိုလ်ဖြင့် ဆောင်ရွက်မည်ဆိုပါကဆောင်ရွက်မည့် အဖွဲ့အစည်း (သို့မဟုတ်) တတိယပုဂ္ဂိုလ်အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းအပိုဒ်(၃၃)နှင့်အညီသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့တင်ပြ၍အတည်ပြုချက် ရယူရန်၊

(ဂဂ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာတွင် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ်(၃၄)နှင့်အညီအများ ပြည်သူနှင့်တိုင်ပင်ဆွေးနွေးခြင်းဆိုင်ရာလုပ်ငန်းစဉ်များအား ဆောင်ရွက် ရန်၊

(ဃဃ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာအား တင်ပြရာတွင် တင်ပြမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍ ပူးတွဲတင်ပြ ရန်၊ အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်း ဆောင်ရွက် မည့်နေရာဒေသတွင်နေထိုင်သောဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘော ထားများအား အလေးထားဆောင်ရွက်ရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ် ပစ္စည်းနှင့် စွန့်ပစ်အရည်များစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) စက်ရုံအတွင်း မီးဘေးအန္တရာယ်ကာကွယ်ရန်အတွက် မီးဘေးလုံခြုံရေးစီမံချက် ရေးဆွဲ ရန်၊အဆိုပါစီမံချက်အတိုင်းဇာတ်တိုက်လေ့ကျင့်ထားရန်၊ မီးသတ်ဆေးဘူးများ/မီးချိတ်/

မီးကတ်များလုံလောက်စွာထားရှိရန်၊မီးသတ်ရေကန်/သဲတို့ကိုစဉ်ဆက်မပြတ်ဖြည့်တင်းထားရှိရန်နှင့် အရေးပေါ်အချက်ပေးစနစ်များ တပ်ဆင်ထားရန်။

(ဃ) လုပ်ငန်းခွင်သာယာရေးနှင့်လုပ်သားများ သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့်အစီအစဉ်များအား ရေးဆွဲဆောင်ရွက်ရန်၊

(င) တစ်လလျှင် ပျမ်းမျှအားဖြင့် ရာဘာသစ်ကုန်ချော ကုဗမီတာ (၁၂၀၀) ခန့် အနည်းဆုံးထုတ်လုပ်မည်ဖြစ်၍ အစားထိုးရာဘာစိုက်ခင်းများ ထူထောင်သွားရန်၊

(စ) စီမံကိန်းအဆိုပြုသူသည် မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် သက်ဆိုင်ရာဒေသခံပြည်သူများထံမှ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်သွားရန်နှင့်ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများဆောင်ရွက်သွားရန်၊

(ဆ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(ဇ) ကုန်ကြမ်း/ကုန်ချောထုတ်လုပ်မှု (၅)နှစ်သာဖော်ပြထားသော်လည်း စီမံကိန်း အကောင်အထည်ဖော်မည့်မြေနေရာအား နှစ်(၂၀)ငှားရမ်းခြင်း၊ (၁၀)နှစ်စာကုန်ကျစရိတ်တွက်ချက်ရာတွင် packing costကိုတိုးမြှင့်ထား၍ တိုးမြှင့်ထုတ်လုပ်ရန်လျာထားခြင်း၊ ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ်(၅၀)ခန့်ဆောင်ရွက်မည်ဟုဖော်ပြထားခြင်းတို့ကြောင့်ရင်းနှီးမြှုပ်နှံမှုကာလ (၅)နှစ်နောက်ပိုင်း တိုးမြှင့်ထုတ်လုပ်မည့် ကုန်ချောပမာဏ၊ ထုတ်လုပ်မှုနည်းစဉ်တို့အပေါ်မူတည်၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ(Environmental Impact Assessment-EIA) ရေးဆွဲရန် လိုအပ်မည်ဖြစ်ပါကြောင်း။

(အောင်အောင်လေး)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ်

မိတ္တူကို

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)

ညွှန် ကြား ရေး မှူး ရုံး
သစ် တော ဦး စီး ဌာ န
မွန် ပြည် နယ်၊ မော် လ မြိုင် မြို့
စာအမှတ်၊ ၂၃၉၇ - ၂၄၀၀ / ဘ(ဂ)၁
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၁၄ ရက်

သို့

**ဥက္ကဋ္ဌ**
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း
ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

၀၁၄
၁၅.၃.၂၀၁၉
၁၅၀၀ နာရီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့၏ ၁၃.၃.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက/၁/နင၈/၂၀၁၉(၀၀၆)

၁။ Sen Hui Yuan International Trading Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ တာပသွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-၂၂+၂၃/၁+၂၁/၁+၃၂/၃၊ ကွင်းအမှတ်-၈၁၅၊ သာယာကုန်းကွင်း၊မြေဧရိယာ(၉.၀၅)ဧကတွင် ရာနှုန်းပြည့်နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီးရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားလွှာတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ်၊ မတ်လ ၂၅ ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Sen Hui Yuan International Trading Co.,Ltd သည် သစ်တောဦးစီးဌာနတွင် သစ်တောဥပဒေပုဒ်မ-၃၀၊ နည်းဥပဒေ-၈၉(က)အရ သစ်အခြေခံအသုံးပြုသည့် စက်ရုံတည်ထောင်ရန်အတွက် လျှောက်ထားမှုမရှိသေးပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

(မင်းသိန်းမြင့်)
ညွှန်ကြားရေးမှူး

မိတ္တူကို
လက်ထောက်ညွှန်ကြားရေးမှူး၊ သစ်တောဦးစီးဌာန၊ မော်လမြိုင်-သထုံခရိုင်
ဦးစီးအရာရှိ၊ သစ်တောဦးစီးဌာန၊ မုဒုံမြို့နယ်
Sen Hui Yuan International Trading Co.,Ltd
မျှောစာတွဲ
ရုံးလက်ခံ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့**
**မွန်ပြည်နယ်**

စာအမှတ်၊ ၂၀၀/ ၄-၃/ အဖရ(မွန်)(၇၂၀၁)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ရက်

သို့

အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁၃-၃-၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/ ၁/ နငခ/ ၂၀၁၉(၀၀၆)

မုဒုံမြို့နယ်၊ တာပသွန်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၂၂+၂၃/၁+၂၁/၁+၃၂/၂)၊ ကွင်းအမှတ် (၈၁၅)၊ သာယာကုန်းကွင်း၊ မြေဧရိယာ(၉.၀၅)ဧကတွင်ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည် ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် Sen Hui Yuan International Trading Co.,Ltd မှ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားမှက်ချက်တောင်းခံ လာခြင်းနှင့်ပတ်သက်၍ (၁၁-၄-၂၀၁၉)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၃/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၄)အရ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
(ကြည်မြင့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

စီမံကိန်း၊ ဘဏ္ဍာရေး၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
လုည့်လည်စာတွဲ
ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရာဘာသစ်ခွဲသားများ ထုတ်လုပ်ခြင်းလုပ်ငန်း

ဆောင်ရွက်ရန်အတွက်

# ရင်းနှီးမြှုပ်နှံလိုသူ၏

# လုပ်ငန်းအဆိုပြုချက်

" စွန်ဝေ့ယွမ် " ကုမ္ပဏီလီမိတက်

2

# INVESTMENT PROPOSAL

FOR

MANUFACTURING OF RUBBER WOOD SAWN TIMBER

UNDER MYANMAR INVESTMENT LAW

IN

THE REPUBLIC OF THE UNION OF MYANMAR

"SEN HUI YUAN COMPANY LIMITED"



ပုံစံ (၄ - ခ)

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု-ကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ...... ၈၁၃ ......
ရရှိရက်စွဲ ...... ၁၁.၁.၂၀၁၉ ......
ရရှိအချိန် ...... ၁၁း၁၀ နာရီ ......
လက်ခံသူလက်မှတ် ...... 

## အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

.................................... တိုင်းဒေသကြီး / ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် ၊

ရက်စွဲ ၂၀ ခုနှစ်၊ လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ....................................

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ....................................
ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် ....................................
အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................................

(ဂ) နိုင်ငံသား ....................................

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ ....................................
....................................

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ ....................................

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) ....................................

မှတ်ချက်။ အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ၊

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူ/နိုင်ငံကူးလက်မှတ်မိတ္တူ။

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် ....................................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ....................................
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................................

(ဃ) နိုင်ငံသား ....................................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ ....................................
....................................





Form (4 - B)

## Endorsement Application Form

To,

**Chairman**

**----------------Region/State Investment Committee**

Reference No.

Date.

I do apply for the endorsement in accordance with the Section 37 of the Myanmar Investment Law by furnishing the following particulars:

1. The Investor's :-
   (a) Name ..........................................................................................
   (b) Company Registration No/ ID No/ National Registration Card No /Passport ..........................................................................................
   (c ) Citizenship ..........................................................................................
   (d) Address/ Address of Registered Office ..........................................................................................
   (e ) Phone /Fax / E -mail: ..........................................................................................
   (f) Type of Business(to describe in detail) ..........................................................................................

   **Note:** The following documents need to be attached according to the above paragraph (1) :-
   (1) Company Registration Certificate (copy);
   (2) ID No/ National Registration Card (copy) and Passport (copy);

2. If the investor don't apply for endorsement by himself / herself, the applicant;
   (a) Name..........................................................................................
   (b) Name of contact person ..........................................................................................
   (if applicant is business organization)

   **Note**: describe with attachment of letter of legal representative
   (c) ID No./ National Registration Card No./Passport No. ..........................................................................................
   (d) Citizenship ..........................................................................................
   (e) Address in Myanmar :..........................................................................................
   (f) Phone / Fax : ..........................................................................................
   (g) E-mail : ..........................................................................................





ပုံစံ (၇ - ၁)

# မြေအသုံးပြုခွင့်လျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

------------------တိုင်းဒေသကြီး/ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊

ရက်စွဲ၊ ၂၀ ခုနှစ်၊ လ ရက်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရန် မြေငှားရမ်းခွင့် သို့မဟုတ် မြေအသုံးပြုခွင့် လျှောက်ထားခြင်း။**

ကျွန်တော်/ကျွန်မသည် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခွင့် သို့မဟုတ် မြေအသုံးပြုခွင့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၁၆ နှင့်အညီ အောက်ပါ အချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ မြေ/ အဆောက်အအုံ၏ ပိုင်ရှင်နှင့်စပ်လျဉ်းသောအချက်အလက်များ

(က) ပိုင်ရှင်အမည်/အဖွဲ့အစည်း ------------------------------------------------

(ခ) ဧရိယာအကျယ်အဝန်း ------------------------------------------------

(ဂ) တည်နေရာ ------------------------------------------------

(ဃ) မူလမြေအသုံးပြုခွင့်ရရှိထားသောကာလ (မြေငှားဂရမ်သက်တမ်း) ----------------

(င) နှစ်ရှည်ငှားရမ်းခများကိုမတည်ရင်းနှီးငွေအဖြစ်ဖော်ပြခဲ့ခြင်းရှိ-မရှိ----------------

(စ) ကနဦးငှားရမ်းသူကသဘောတူ/မတူ ------------------------------------

(ဆ) မြေအမျိုးအစား ------------------------------------------------

၂။ အငှားချထားသူ

(က) အမည်/ကုမ္ပဏီအမည်/ဌာန/အဖွဲ့အစည်း ------------------------------------

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ------------------------------------

(ဂ) နေရပ်လိပ်စာ ------------------------------------------------

------------------------------------------------------------



Form ( 7- B)

**Application form for Land Rights Authorization**

To,

**Chairman**

**---------------------- Region/State Investment Committee**

Reference No.

Date.

Subject: **Application for Land Lease or land Rights Authorization to be invested**

I do hereby apply with the following information for permit to lease the land or permit to use the land according to the Myanmar Investment Rules 116: -

1. Particulars relating to Owner of land / building
   - (a) Name of owner/organization ----------------------------------------------
   - (b) Area ----------------------------------------------------------------
   - (c) Location --------------------------------------------------------------
   - (d) Initial period permitted to use the land (Validity of land grant) -----------------
   - (e) Payment of long term lease as equity Yes ( ) No ( )
   - (f) Agreed by Original Lessor Yes ( ) No ( )
   - (g) Type of Land ----------------------------------------------------------
2. Lessor
   - (a) Name / Company's name/ Department/ organization -------------------------
   - (b) National Registration Card No ------------------------------------------
   - (c) Address ---------------------------------------------------------------

     ---------------------------------------------------------------------
3. Lessee
   - (a) Name / Company's name /Department/ Organization --------------------------
   - (b) National Registration Card No /Passport No. ------------------------------
   - (c) Citizenship -------------------------------------------------------------
   - (d) Address ---------------------------------------------------------------

     ---------------------------------------------------------------------
4. Particulars of the proposed Land Lease
   - (a) Type of Investment ---------------------------------------------------
   - (b) Investment Location(s) ------------------------------------------------

     ---------------------------------------------------------------------

ပုံစံ (၄ - ၁)

# အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ / / /

ရက်စွဲ ၊ ၂၀၁၉ခုနှစ်၊ မတ်လ ( ၅ ) ရက်

ကျွန်တော် / ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ - ၃၇ နှင့်အညီ အောက်ဖော်ပြပါအချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် - Mr. YUAN LICHI

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ...................................................................

ရင်းနှီးမြှုပ်နှံသူ၏နိုင်ငံသားစိစစ်ရေးကဒ်............................................................................

အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် - E – 17173663

(ဂ) နိုင်ငံသား - China

(ဃ) နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ - No. 570 , Kyaik KhaMee Road , Kyar Inn Village , Mawlamyine Township , Mon State , Myanmar.

(င) တယ်လီဖုန်း / ဖက်စ် / အီးမေလ်လိပ်စာ - kungfaguoji@163.com

(စ) လုပ်ငန်းအမျိုးအစား (အသေးစိတ်ဖော်ပြပေးရန်) - ရာဘာသစ်ခွဲသားများထုတ်လုပ်ခြင်းလုပ်ငန်း

မှတ်ချက်။ အောက်ဖော်ပြပါအချက်များကိုပူးတွဲတင်ပြရန်

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ။

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ။

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ - ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းဖြစ်ပါသည်။

(က) အမည် ..........................................................................................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..........................................................................

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် ......................................

(ဃ) နိုင်ငံသား ..........................................................................................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ ..........................................................

(စ) တယ်လီဖုန်း / ဖက်စ် ..............................................................................

(ဆ) အီးမေလ်လိပ်စာ ..................................................................................

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်စာပူးတွဲတင်ပြရန်

၃။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☑ ရာနိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်နည်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံ တစ်မျိုးမျိုးဖြင့် ဆောက်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံခြားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး .................................... %

အစိုးရဌာန ၊ အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး .................................... %

နိုင်ငံခြားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး - ၁၀၀ %

၄။ အစုရှယ်ယာ ၁၀% နှုန်းနှင့် အထက်ပိုင်ဆိုင်သောအစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁။ | Mr. YUAN LICHI | Passpoart – E17173663 | 10% |
| ၂။ | Mr. DONG CHENG | Passpoart – EE5934173 | 90% |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေစာရင်း - အမေရိကန်ဒေါ်လာ ၉၅ , ၀၀၀.၀၀

(ခ) အစုရှယ်ယာအမျိုးအစား - သာမာန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့်အစုရှယ်ယာပမာဏ -

- အစုရှယ်ယာပေါင်း US$ ၉၅,၀၀၀.၀၀

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း / သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ကုမ္ပဏီဖွဲ့စည်းပုံ အခြေခံစည်းမျဉ်း ပူးတွဲတင်ပြရန်။

၆။ မတည်ငွေစာရင်းနှင့် သက်ဆိုင်သောအချက်အလက်များ -

ကျပ် / US $ (သန်းပေါင်း)

| | | |
|---|---|---|
| (က) | ပြည်တွင်းမှထည့်ဝင်မည့်မတည်ငွေစာရင်း ပမာဏ / ရာခိုင်နှုန်း | ..................................................... |
| (ခ) | နိုင်ငံခြားမှယူဆောင်လာသည့်မတည်ငွေစာရင်း ပမာဏ / ရာခိုင်နှုန်း | US$ 2.၃၇ (100%) |
| | စုစုပေါင်း | US$ 2.၃၇ (100%) |

ရှင်းလင်းချက်။ ။ အဆိုပြုလုပ်ငန်းအတွက် ပြည်တွင်းတွင် ဝယ်ယူရရှိနိုင်သော လိုအပ်သည့် စက်နှင့်ပစ္စည်းကိရိယာများနှင့် မော်တော်ကားများ၊ ပရိဘောဂများနှင့် လိုအပ်သော တည်ဆောက်မှု ကုန်ကျစရိတ်များအား ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ ကျန်ရှိသော စက်နှင့် ပစ္စည်းကိရိယာများနှင့် မော်တော်ကားများအား နိုင်ငံခြားမှ ပစ္စည်းအားဖြင့် ရင်းနှီးမြှုပ်နှံမှု အနေဖြင့် တင်သွင်းကာ ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အစီအစဉ်အား Annexure No. ( ) တွင် ပူးတွဲဖော်ပြထားပါသည်။

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ( ၅၀ )နှစ်

၈။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ (များ) / တည်နေရာ - ဦးပိုင်အမှတ် - ၂၂+၂၃/ ၁+၂၀/ ၂+၃၂/၃ ၊ ကွင်းအမှတ် - ၈၁၅ (သာယာကုန်းကွင်း) ၊ တာပသွန်ကျေးရွာအုပ်စု မုဒုံမြို့နယ်၊မော်လမြိုင်ခရိုင်၊မွန်ပြည်နယ်။

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး /ပမာဏ - US $ 2.၃၇ million

၉။ သက်ဆိုင်ရာအဖွဲ့အစည်းများ၏ ခွင့်ပြုချက် ၊ လိုင်စင် ၊ ပါမစ် စသည်တို့ ရရှိပြီးဖြစ်ပါက ပူးတွဲတင်ပြရန်။

၁၀။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☐ ရှိ ၊ ☒ မရှိ

ရှိပါက လုပ်ငန်းဆောင်ရွက်မှုအခြေအနေကို ဖော်ပြပေးရန်

..........................................................................................................

..........................................................................................................

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်း ရှိ/မရှိ ဖော်ပြရန်။

 မြေအသုံးပြုခွင့်လျှောက်ထားလွှာ

 အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားလွှာ

| | |
|---|---|
| လျှောက်ထားသူလက်မှတ် | .......................................... |
| အမည် | - Mr. YUAN LICHI |
| ရာထူး | - အဆိုပြုဒါရိုက်တာ |
| ဌာန/ကုမ္ပဏီတံဆိပ် | - Yan Lichi Director SEN HUI YUAN INTERNATIONAL TRADING COMPANY LIMITED. |

10 - ၆



## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်းအာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့် ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက် နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ........ Yan Lichi

ရာထူး ........ Director

ဌာန/ကုမ္ပဏီတံဆိပ် SEN HUI YUAN INTERNATIONAL TRADING COMPANY LIMITED.

Form (4-B)

# Endorsement Application Form

**Chairman**

**..................... Region / State Investment Committee**

Reference No.

Date.

I do apply for the endorsement in accordance with the Section 37 of the Myanmar Investment Law furnishing the following particulars:

1. The Inverstor's :-

(a) Name Mr. YUAN LICHI

(b) Company Registration No/ ID No / National Registration Card No / Passport ................ .................... E – 17173663 ..........................................................................................

(c) Citizenship .............................................China..................................................

(d) Address / Address of Registered Office - No. 570 , Kyaik Kha Mee Road , Kyar Inn Village , Mawlamyine Town Ship , Mon State , Myanmar.....................................................

(e) Phone / Fax / E-mail - ............Kunfaguoji@163.com .......................................................

(f) Type of Business (to describe in detail) - Rubber wood production Factory...................

Note: The following documents need to be attached according to the above paragraph (1); -

(1) Company Registration Certificate (copy):

(2) ID No / National Registration Card (copy) and Passport (copy):

2. If the investor don't apply for endorsement by himself / herself , the applicant: - The Investor apply this Endorsement Application form by himself.

(a) Name ..........................................................................................................................

(b) Name of contact person ..........................................................................................

(if applicant is business organization)

Note: describe with attahement of letter of legal representative

(c) ID No./ National Registration Card No./ Passport No. ........................................................

(d) Citizenship ..................................................................................................................

(e) Adress in Myanmar ....................................................................................................

(f) Phone / Fax : ..............................................................................................................

(g) E-mail : .......................................................................................................................

3. Type of business organization to be formed :-

☐ One Hundred Percent ☐ Joint Venture ( To attach the draft of JV agreement)

☐ Type of Contractual Basis (To attach draft contract / agreement)

Share Ratio (Local) ..........................................................................%..............................................

Share Ratio ( Government Department / Organization ) ...............%..............................................

Share Ratio (Foreigner) .............................................................. 100.%...............................................

4. List of Shareholders Owned 10% of the Shares and Above

| No | Name of Shareholder | Citizenship | Share Percentage |
|---|---|---|---|
| 1. | Mr. YUAN LICHI | Passpoart- E17173663 | 10% |
| 2. | Mr. DONG CHENG | Passpoart- EE5934173 | 90% |
| | | | |
| | | | |
| | | | |

5. Particulars of Company Incorporation

(a) Authorized Capital .....................US$ 95 , 000 , 00 ...........................................................

(b) Type of Share ....................................Normal Share ...........................................................

(c) Number of Shares ................................................................................................................

...............The total number of shares is US $ 95 , 000 , 00 ......................................................

Note: Memorandum of Association and Articles of Association of the Company shall be submitted with regard to above paragraph 5.

6. Particulars of Paid – up Capital of the Investment

Kyat / US$ (Million)

(a) Amount / Percentage of local capital to be contributed ..................................................................

(b) Amount / Percentage of foreign capital to be brought in .............US $ 2.3[illegible] (100%) ...................

Total US $ 2.3[illegible] ( 100% )

